အင်္ဂလိပ် နှစ်ဘာသာ
ဂုဏ်တော်ထားပါသည်။

မမ္မရုပ်ပြ

# မြတ်ဗုဒ္ဓ၏အမှန်တရားအတွက် စကားဆယ်ခွန်း

Truly Tenfold Speech Of
The Lord Buddha



အောင်ကြောင်းပြာ

မုဒိတာ

တန်ဖိုး
၅၀၀ကျပ်



လုံးစုံများစွာ သတ္တဝါ ချမ်းသာကိုယ်စိတ်မြဲပါစေ

May all livings be peaceful

ထုတ်ဝေသူ

ဦးတင်ငွေ (မြဲ ၀၄၈၂၄)
(နဂါးပျံလစဉ်)
အမှတ်(၉၆/ဘီ)၊ ပထမထပ်၊
လမ်းသစ်လမ်း၊လမ်းမတော်မြို့နယ်၊
ရန်ကုန်မြို့

မျက်နှာဖုံးပုံနှိပ်

ဦးမြင့်ခိုင် (မြဲ - ၀၀၀၃၈)
(ထွန်းသစ္စာပုံနှိပ်တိုက်)
အမှတ်(၁၉) / စီ၊ ၅၅လမ်း၊
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

အတွင်းပုံနှိပ်

ဒေါ်စုစုလှိုင်(မြဲ-၀၁၂၃၄)
စု ပုံနှိပ်တိုက် (မြဲ-၀၀၄၃၀)
အမှတ်-၁၄/အေ၊ ၅၆လမ်း၊ ပုဇွန်တောင်မြို့နယ်၊
ရန်ကုန်မြို့

ထုတ်ဝေသည့်ခုနှစ်
၂၀၁၈ခုနှစ်၊ မေလ
အုပ်ရေ(၁၀၀၀) တန်ဖိုး ၅၀၀ ကျပ်

အင်္ဂလိပ်စာ ဘာသာပြန်
ဦးကျော်ကျော်စိုး (အင်္ဂလိပ်စာနည်းပြ)

အတွင်းပန်းချီ
ဦးမင်းဦး၊ ဝင်းနိုင်ဦး

ဇာတ်ညွှန်း
မုဒီတာ

မျက်နှာဖုံးကာလာဂရပ်ဖစ်
နိုင်ဝင်း

အတွင်းကွန်ပျူတာ ဂရပ်ဖစ်
ဝိုင်းမော်

ထုတ်ဝေဖြန့်ချိရေး
နဂါးပျံစာပေ
ဖုန်း - ၀၉ ၄၃၀၆၉၉၃၂

စီစဉ်ထုတ်ဝေသူ -အတီး
ဖုန်း - ၀၉ ၄၃၀၆၉၉၃၂

Publisher
U Tin Ngwe (Nagar Pyan, Monthl

Cover Press
U Myint Khine (Tun Thitsar Off-se

Inside Press
Daw Su Su Hlaing (Su Off-Set)

Published Year
2018 May
Books(1000). Price 500 Ky

English Translator
U Kyaw Kyaw Soe (English Instr

Inside Illustration
U Min Oo & Win Naing Oo

Scenarist
Mu Di Thar

Front Cover Colour Gra
Naing Win

Inside Computer Grap
Wine Maw

Publishing and Distri
Nagar Pyan Literat
09-43069932

# အဖိုးထိုက်တန်သော စကား(၁၀) ခွန်း

Valuable Tenfold Speech





တစ်ခါက ဘုရားရှင်က. ကောသလတိုင်းပြည်ကို ဒေသစာရီ ကြွတော်မူတယ်· · ·
On one occasion, The Lord Buddha had a visit to Kawsala Vastu.
ကောသလပြည်ရဲ့ ပိုင်နက်ထဲက "ကော်လမုတ္တရွာ" ကို ကြွတော်မူတယ်· ·
When He arrived in a villag called Kawlamouta of Kawsala Vast
ဗုဒ္ဓဘုရားရှင်မြတ် ကြွတော်မူလာတယ်တဲ့· · · ငါတို့တွေ သွား ဖူးတွေ့ရအောင်· · ·
Everybody says The Lord Buddha comes to us. Let's go and pay homage.Him.
ဟုတ်တယ်· · · ဘုရားရှင်က အမှန်တရားကို ရှင်းလင်းအောင် ပြောပြနိုင်စွမ်းရှိတယ်· · ·
Yes, The Lord Buddha is able to settle any problem truely.
ဒါဆို ငါတို့ မရှင်းလင်းတဲ့ အကြောင်းတရားကို မေးမြန်းနိုင်ပြီပေါ့· · ·
If so, we can ask Him our un-understanding matters.


ကာလမ မင်းတွေဟာ ဘုရားရှင်ကြွမြန်းလာတာ သိတော့ ဝမ်းမြောက်ဝမ်းသာနဲ့ ဖူးတွေ့ဖို့ ရောက်လာကြတာပေါ့...
And then, they got at The Lord Buddha to pay homage Him.
ဗုဒ္ဓဘုရားရှင်ရဲ့ တန်ခိုးနဲ့ ဘုန်းကံပညာတွေကို သူတို့ကြားသိထားတာကို...
They all had already known about the glory power of Him.
သူတို့ရင်ထဲမှာ မရှင်းလင်းတဲ့ အမှန်တရား တစ်ခုကိုလည်း သိချင်ကြတယ်...
They wanted to know turely that they had a doubt in their heart.
ဒါကြောင့် ဘုရားရှင် သီတင်းသုံးနေတဲ့ နေရာကို အရောက်လာကြတယ်...
So they got at The Lord Buddha.


ဘုရားရှင်ကို တွေ့မြင်တော့ ရှိခိုးဝတ်ပြုပြီး ကာလမမင်းတွေက လျှောက်ထား ကြတယ်···
When they gốt at Him, they paid homage and asked.
အရှင်ဘုရား··· ကျွန်ုပ်တို့ တိုင်းပြည်ထဲကို ရဟန်းများ ပုဏ္ဏားများရောက်ရှိ လာကြပါတယ် ···
Lord Buddha, many monks including Bramins get to our Vastu.
ရောက်လာသော ရဟန်းများ ပုဏ္ဏားများက သူတို့ရဲ့ အယူအဆတရားများကို ဟောကြား ကြပါတယ် ဘုရား···
They preach their beliefs to the people.
ရောက်လာသမျှ ရဟန်းနှင့် ပုဏ္ဏားတို့ဟာ သူတို့ အယူဝါဒကို အမှန်တရာ ဆိုကြပါတယ်···
And they say that eacl of them says that thei beliefs are true.


တခြားရဟန်း···
ပုဏ္ဏားတို့ရဲ့ အယူများက
မှားယွင်းကြောင်း ပြောကြပါတယ်···
They say other beliefs are wrong accept theirs.
ဒီလိုနဲ့ အသစ်
ရောက်လာကြသော ရဟန်း၊
ပုဏ္ဏားတို့ကလည်း မိမိရဲ့ဝါဒကို
ပြောဟောပြီး···
The new ones say like that And
အခြားသူတွေရဲ့
ဝါဒတွေကို မှားကြောင်း
ပုတ်ခတ်ကြပါတယ်···
say other beliefs are wrong.
ကျွန်ုပ်တို့ အနေနဲ့
ဘယ်အရာကို အမှန်··· ဘယ်အရာကို
အမှားဟု ဆုံးဖြတ်ရမည်လဲ ဘုရား···
Lord Buddha, how can we decide what's right and what's wrong.
ကာလာမမင်းတွေက သူတို့ပြဿနာကို မေးမြန်းကြတယ်···
Kings Karlama asked Him they confused.



ဗုဒ္ဓဘုရားရှင်လည်း ကာလာမ မင်းတို့ရဲ့ ဒုက္ခပြဿနာကို မဟာ ကရုဏာအပြည့်နှင့် ဖြေကြားတော်မူတယ်···
The Lord Buddha replied with the great compassion at the question of kings karlama.
ကာလာမမင်းအပေါင်းတို့··· သင်တို့ရဲ့ တိုင်းအတွင်းကို ရဟန်း၊ ပုဏ္ဏားများဝင်ရောက်လာကာ···
King karlama, getting to your Vastu by them
မိမိရဲ့ အယူဝါဒတရားတွေ ဟောပြောကြတာ မဆန်းပါချေ···
is not strange to preach their beliefs.
ကိုယ့်ဝါဒကို အမွှန်းတင်ပြီး အခြားသော အယူဝါဒတွေ ကို ပုတ်ခတ်ကဲ့ရဲ့ ကြမှာ မလွဲပါဘူး···
It is sure prouding on their beliefs and criticize others.
သင်တို့ အမှန်ကို ခွဲခြားရခက်ခဲကြမှာပါပဲ··· အဓိက, က သညာဉာဏ်အသိနဲ့ စိစစ်ရန် ဖြစ်ပေတယ်··
Now you all have doubt. Majority is you should have consideration with awareness.


ဘုရားရှင်က အဖိုးထိုက်တဲ့ လမ်းညွှန်စကားကြီး (၁၀) ခွန်းကို ဟောပြောခဲ့တယ်···
And The Lord Buddha gave Tenfold Speech.
အမှန်တရားကို ရှာဖွေနိုင်ဖို့ ငါဘုရား မှတ်ကျောက်စကား ဆိုခဲ့ပါမယ်···
I, Lord Buddha will give you the speech to find the Truth out.
ကာလာမ မင်းအပေါင်းတို့··· တစ်ဆင့်စကားပြောသံ ကြားယုံနှင့်လည်း ဟုတ်မှန်ပြီ ဟု မယူဆကြနဲ့···
Kings Karlama, you shouldn't believe through others.
အစဉ်အဆက် ပြောဆိုကြားနာခဲ့သော စကား ဖြစ်၍လည်း ဟုတ်မှန်ပြီဟု မယူဆ ကြလေနဲ့···
You, shouldn't believe that is traditional.


ဤသို့ဖြစ်ခဲ့ဖူးသည်
ဖြစ်ခဲ့တယ် ဟူ၍လည်း
ဟုတ်မှန်ပြီဟု မယူဆကြနဲ့···
You shouldn't believe that has been happened and it happened like this.
ပိဋကတ် စာပေနှင့်
ညီညွတ်သည်ဟုလည်း ဟုတ်မှန်ပြီ
မယူဆကြနဲ့···
You shouldn't believe it has been described in words.
မိမိသဘောနဲ့
ကြံစည်တွေးတောရလို့လည်း
ဟုတ်မှန်ပြီ မယူဆကြလေနဲ့···
You shouldn't believe by your own.
တစ်ပါးသူထံ
နည်းနာယူခြင်းဖြင့်လည်း ဟုတ်မှန်ပြီလို့
မယူဆကြနဲ့···
You shouldn't believe following from others.


အကြောင်းခြင်းရာကို တွေးတောကြံစည်ခြင်း သဘောနဲ့လည်း ဟုတ်မှန်ပြီ မယူဆကြပါနဲ့··· You shouldn't believe in consideration.
မိမိတွေးတော သဘောကျမှုနှင့် တူညီနေလို့ ဟုတ်မှန်ပြီ မယူဆကြလေနဲ့··· You shouldn't believe as in your through.
မှတ်ယူထိုက်သည် ဆိုတဲ့ သဘောနဲ့လည်း ဟုတ်မှန်ပြီ မယူဆကြပါနဲ့··· You shouldn't believe it should be kept in heart.
ငါတို့လေးစားသော ပုဏ္ဏား ရဟန်းစကားဖြစ်သည် ဆို၍လည်း ဟုတ်မှန်ပြီ မယူဆကြပါနဲ့··· You shouldn't believe according to your respected person.


ကာလမမင်း
အပေါင်းတို့ . . .
မကောင်းသော ပြုမှုလုပ်ကိုင်မှု
ပညာရှိတို့ရဲ့ ကဲ့ရဲ့ ရှုံ့ချသော အမှုကိစ္စ . .
Karlamas, Doing evil,
any matter unliked
by the wises
ဒါတွေဟာ
မကောင်းသော အပြုအမှု
ဖြစ်သည်ဟု သင်တို့ ကိုယ်တိုင်
သဘောပေါက်နားလည်သိရှိပြီး
ပယ်စွန့်အပ်ရှောင်ကြဉ် အပ်ပေသည် . . .
should be avoided by
understanding
yourself.
ဗုဒ္ဓဘုရားရှင်က ကာလမ မင်းသား
အပေါင်းကို ရှင်းလင်းဟောကြားခဲ့
တယ် . . . .
The Lord Buddha said
to kings Karlama.
သမုတ္တိသုတ်တော်" လို့ထင်ရှားခဲ့တဲ့
ဘုရားရှင်ရဲ့ တရားသုတ်တော်ကြီးပဲ .
These speech is known as
Samutti Sutta of The Lord
Buddha.


ကာလမ မင်းတို့ကို ဟောကြားခဲ့လို့ ကာလမ သုတ်တော်လို့လည်း ခေါ်ဆိုကြတယ်...
And well-known as Karlama Sutta.
ကာလမ မင်းတွေကို ရည်ညွှန်းဟောကြားခဲ့တာ ဆိုပေမယ့် ဒါဟာ လူအများနဲ့ သက်ဆိုင်တဲ့... အကျိုးရှိစေတဲ့ သုတ်တော်ကြွယ်...
Though these were said to Karlamas, it is associating with all men. It's beneficial for all.
မစောင့်ရှောက
လူ့ဘုံက လူသားတွေ အမှားအမှန်ကို ပိုင်းခြားပြီး ကောင်းကျိုးကို ရှာဖွေနိုင်စေတယ်...
Everyone can find out right or wrong on a matter.


လူ့ဘုံလောကမှာ အသိအမြင် မှန်ကန်မှုဟာ
အရေးကြီးဆုံးပဲ···
Knowing the right view is the most important in human world.
အသိအမြင် မမှန်ကန်ရင် မှားယွင်းတဲ့
အယူအဆကို ကိုင်စွဲမိစေတယ်···
If everyone doesn't have right view, he or she can trend to the wrong.
ဒါဆိုရင် အမှန်တရားဟာ ဝေးကွာ
သွားပြီပေါ့···
If so, he or she will be far away from the right view.
အတွေးမှား အမြင်မှားသူအတွက် အမှားမှာပဲ သံသရာ
လည်စေတယ်···
For the ones who have wrong vision, they will be in wrong cyclic process.
၁၄


ဘုရားရှင်တော်က လူသားတို့ကို မဟာကရုဏာနဲ့ ဟောကြားဆုံးမခဲ့တယ်···
The Ominisicence Lord Buddha gave the speech to the people with the great compassion.
ချစ်သားတို့··· မိမိသည်သာ မိမိ၏ ကိုးကွယ်ရာ ဖြစ်ပေတယ်··· တစ်ပါးသူသည် အဘယ်မှာ မိမိအတွက်ကိုးကွယ်ရာ ဖြစ်မည်နည်း···
Bhikkhus, you are reliable yourself. Noone can be your rely.
မိမိသည်သာ မိမိ၏ လဲလျောင်းရာဖြစ်တယ်···
You stand yourself.
မြင်းကုန်သည်ဟာ အမျိုးကောင်းမြင်းကို စောင့်ရှောက် သကဲ့သို့ မိမိကိုယ် မိမိစောင့်ရှောက် ကြပေလော့···
You save yourself as the horse seller saves his good horse.

# နက္ခကောင်းရွေးမိလို့

## Choicing Good Star




သာဝတ္ထိပြည်မှာနေတဲ့ အမျိုးကောင်းမိသားစုတစ်စုရှိတယ်...
There was a good family in Savithi Kingdom.
ငွေကြေးဥစ္စာနေ ပြည့်စုံချမ်းသာသလို မျိုးရိုးအဆင့် အတန်းကလည်း မြင့်မား သူတွေပေါ့...
They were not only wealthy but also in high lineage.
သူတို့မှာ ချောမောလှပပြီး ချစ်ခင်စရာ အရမ်းကောင်းတဲ့ သမီးပျိုလေးရှိတယ်...
The parents had a beautiful lady.
အရွယ်ရောက်နေတဲ့ သမီးပျိုလေးကို အိမ်ထောင်ချပေးဖို့ မိဘတွေက စိမံကြတယ်...
She was said to be married in her young age.


ရှင်မရေ တို့သမီးလေးကို အိမ်ထောင် ချပေးသင့်ပြီ···
Wife, our daughter should be married.
ဟုတ်တယ် မောင်ကြီး··· ကျွန်မတို့ သမီးလေးအတွက် ငွေကြေးရှိဖို့မလိုပါဘူး··· မျိုးရိုးကောင်းပြီး လိမ္မာတဲ့ခင်ပွန်းလောင်းပဲ လိုတယ်ရှင်···
You say right. No need wealth for our daughter. There should be a good one for her.
မှန်တာပေါ့ကွယ်··· နေပုဒ်ရွာငယ်က ငါ့မိတ်ဆွေတစ်ဦး ရှိတယ်···
Of course. There is a friend lives in country side.
တို့လောက် မချမ်းသာပေမယ့် သူတို့ရဲ့ သားလေးကိုတော့ ငါသဘောကျ မိတယ်···
Though they are not as wealthy as us, I appretiate their son.


ငါ့မိတ်ဆွေ
ကိုယ်တိုင်လည်း တောင်းရမ်းလက်ဆက်
ပေးလိုကြောင်း ကမ်းလှမ်းနေတယ် ရှင်မရဲ့··
They propose me
for it
ကောင်းပါတယ်
မောင်ကြီး··· မောင်ကြီး သဘော
အတိုင်း စီမံပါရှင်···
I agree it. You can do
as you wish.
ဒီလိုနဲ့ သားသမီးအရေးကိစ္စအတွက် နှစ်ဖက်လူကြီးတွေ
စီမံကြတယ်···
And then, both parents arranged for their
son and daughter.
သူဌေးကြီးဆီကို ဇနပုဒ်ကလူတွေ သမီးတောင်းဖို့
ရောက်လာကြတော့ပေါ့ကွယ်···
Some people got at the rich man to say
for his daughter.


နှစ်ဖက်မိဘသားစုတွေ စုံလင်လာကြတော့ သားသမီးအရေး ကိစ္စ ဆွေးနွေးကြတယ်···
Both side had a talk about marriage.
မင်္ဂလာရက်တွေ သတ်မှတ်ညှိနှိုင်း ကြတယ်···
They considered auspicious day
ကိုင်း··· မင်္ဂလာရက်သတ်မှတ်ပြီးပြီဆိုတော့ အောင်မြင်ပြီပေါ့ဗျာ···
Well, we have done our talk successfully
ကာယကံရှင် နှစ်ယောက်နဲ့ နှစ်ဖက်မိဘလူ တွေ အဆင်ပြေစွာ ညှိနှိုင်းနိုင်ကြတယ်···
Both side could have done well.
ဝမ်းသာပါတယ် ဗျာ···
I'm pleased.


မိတ်ဆွေကြီးရေ··· ကျုပ်တို့ပြန်ဦးမယ်···မင်္ဂလာရက် အမီလာခဲ့ပါ့မယ်···
Let me go. I'll come back before due date.
စိတ်ချ··· စိတ်ချ··· ကျုပ်တို့ဘက်က အားလုံးအဆင်သင့်ပြင်ပြီး စောင့်နေပါ့မယ်···
Set your mind. We'll be ready for it.
သားရှင်ဖြစ်တဲ့ နေပုဒ်ရွာက မိသားစုလည်း နှုတ်ဆက်ပြီး ပြန်ကြပြီပေါ့···
After saying bye-bye, they went home back to their live.
နှစ်ဦးနှစ်ဖက် ပျော်ပျော်ရွှင်ရွှင် နှုတ်ဆက်ကြနဲ့ ငြိမ်းချမ်းလို့ပါပဲ···
There was a peaceful saying of both side.



သားရှင်ရဲ့ မိဘတွေဟာ နေရပ်ကို ပြန်ရောက်တော့ သူတို့ကိုးကွယ်တဲ့ ဆရာ အာဇီဝကဆီရောက်သွား ကြတယ်···
The parents of son went to their teacher named Arjivaka as soon as they got home back.
သူတို့ရဲ့ အရေးကိစ္စကို ပြောပြပြီး မေးမြန်းတိုင်ပင်တယ်··
We have to discuss about that matter and ask him.
ဆရာအရှင်··· ကျွန်တော်မျိုးတို့ သားအတွက် သာဝတ္ထိကို စေ့စပ်ကြောင်းလမ်းဖို့ သွားခဲ့ပြီးပါပြီ···
Teacher, we went to Savathi Kingdom for propose of my son.
မင်္ဂလာရက် သတ်မှတ်ခဲ့ပါပြီ···
Both side have already decided auspicious day.
အဲဒါ နက္ခကောင်း မကောင်း တွက်ချက်ပေးပါဦး···
Now we would like to know about star.


တပည့်မိသားစုရဲ့ စကားကို ကြားတော့ ဆရာ အာဇီဝက ဘဝင်မကျ ဖြစ်သွားတာပေါ့···
Teacher Arjivaka wasn't satisfied at them.
ဆရာဆိုတဲ့ ဂုဏ်မာန်နဲ့ အာဇီဝက ပညာပြတော့တာပေါ့ကွယ်···
He was proud and gave the lessons them.
အံ့မယ်··· မသွားခင်က ငါ့ကို လာမတိုင်ပင် မမေးမြန်းဘဲ အခုမှ လာနိုင်းစေနေတယ်···
Oh!..... why did you get there without me before here.
ကိုင်း··· မင်းတို့ သတ်မှတ်ခဲ့တဲ့ နေ့ရက်···
Ok, the day you have chosen
ကောင်းမကောင်း ငါကြည့်ပေးမယ်···
will be forecasted by me.
ဆရာအာဇီဝက တွက်ချက်ကြည့်တယ်···
Teacher Arjivaka forecasted.
JP


တပည့်တွေလည်း ကျုံ့ကျုံ့လေးထိုင်ပြီး ဆရာစကား အပြန်ကို နားစွင့်နေကြတယ်...
The parents of son stayed in quiet and waiting what their teacher will say.
ဟင်... ကြည့်စမ်း... နင်တို့ဘာမှ မတွက်မမေးဘဲနဲ့ စွတ်လုပ်နေတယ် ဒုက္ခရောက်တော့မလို့...
Oh!..... why did you do as you think? It'll be in trouble.
ဟင်... ဟုတ်လား... ဘာဖြစ်လို့လဲ ဆရာ...
Oh……my!.......Why?
ဘာဖြစ်ရမှာလဲ... အဲဒီရက်က ဂြိုလ်ဆိုးနိမိတ်ဆိုးကိန်းဟဲ့...
I say the day you've chosen is bad day. It is evil day.
အလို... ဘုရား... ဘုရား...
Oh.....my!...... What the hell!
၂၄



အဲဒီရက်မှာ မင်္ဂလာဆောင်လို့ကတော့ အကြီးအကျယ် ပျက်စီးမှုတွေနဲ့ ကြုံရတော့မှာပဲ···
They'll be in trouble if they are married on that day.
ကျွန်မတို့ သားလေးတော့ ဒုက္ခရောက်ပြီပေါ့···
Our son can be in trouble.
အချိန်မီပါသေးတယ်···· မင်္ဂလာရက်ကိုရွှေ့လိုက် ငါကိုယ်တိုင် နေ့ကောင်းရက်မြတ်ရွေးပေးမယ်···
No problem. I'll find out the auspicious day for them.
ဟုတ်···· ဟုတ်ကဲ့ပါ ဆရာ···
Yes. Yes Sir
ဆရာ အာဇီဝကဟာ မင်္ဂလာရက်ကို နောက်ဆုတ်ပြီး ရက်ရွေးပေးလိုက်တယ်။
Teacher Arjivaka chose the day back of auspicious day.


ဒီတော့မှ သတို့သား မိသားစုလည်း စိတ်ချမ်းသာ ကျေနပ်သွားကြတယ်···
So they were satisfied heartedly.
ဆရာကြီး ကျေးဇူးပါ··· ပူဇော်ပါတယ်···
Thanks Sir. We pay homage you.
အိမ်း··· ကောင်းလေစွ ··· ကောင်းလေစွ···
good.... good.....
ဆရာကြီးကို ပူဇော်ကန်တော့ပြီး ပြန်ခဲ့ကြတာပေါ့ကွယ်···
And then, they stepped towards home.
အင်း··· ဆရာကြီးနဲ့ တွေ့လို့ တော်သေးတာပေါ့···
We're lucky seeing our teacher.
နို့မို့ရင် ခက်ရချည်ရဲ့···
If it isn't, we'll be in trouble.


မင်္ဂလာရက်ရွှေ့တဲ့ ကိစ္စ ဘယ်လိုလုပ်မလဲ မောင်ကြီး··· သာဝတ္ထိကရှင့်မိတ်ဆွေကို ဘယ်လိုပြောမလဲ··· Brother, how will you tell about it to your friend in Savathi?
ဟာကွာ··· ကောင်းအောင် စီမံတာပဲ လက်ခံမှာပါ··· Oh!......we plan to be fine. They should agree it.
မင်္ဂလာရက်ကို သုံးရက်ပဲ နောက်ဆုတ်တာပဲဥစ္စာ··· Our plan is dating back three day than before.
ချက်ချင်းကြီး အကြောင်းကြားဖို့မှ မလွယ်တာ ဆရာကြီးသတ်မှတ်ပေးတဲ့ရက်မှ သွားကြတာပေါ့··· It is impossible to inform them atonce. We will leave there on the day our teacher choose.
ဟုတ်ပါတယ်··· အဲဒီရက်မှသွားကြတာပေါ့ရှင်··· Ok. We should do it.
၂၇


ဒီလိုနဲ့ မင်္ဂလာသတ်မှတ်ထားတဲ့ရက်ကို ပြောင်းပြီး ဆရာကြီး သတ်မှတ်ပေးတဲ့ရက်ကို အတည်ပြု လိုက်တယ်···
They agreed the date of their teacher chosen.
သတို့သားလောင်းမိဘများဟာ နှစ်ဖက်သဘောတူ သတ်မှတ်ထားတဲ့ရက်မှာ မသွားဖြစ်ကြဘဲ ဆရာကြီး သတ်မှတ်ပေးထားတဲ့ ရက်အတိုင်း သုံးရက်နောက် ကျပြီးမှ သွားကြတယ်···
The bridgeroom and his parents didn't get to his friend's home under agreement of both. They get there after three days late as their teacher said.
မိတ်ဆွေကြီး··· မင်္ဂလာပွဲအတွက် လာတာလေ··
We get here for reception of my son.
ဟေ့··· မင်းတို့ ဘာလာလုပ်ကြတာလဲ··
Hae!...... anything here?
ဘာ မင်္ဂလာပွဲလဲ··· ငါ့သမီး မင်္ဂလာပွဲက မနေ့ကပဲပြီးသွားပြီ
What reception? My daughter's marriage has done yesterday.


အမယ် အမယ်လို
Oh!......Why?
ဘယ်လိုတွေ···
ဘာညာတွေလုပ်မနေနဲ့ မင်္ဂလာရက်
သတ်မှတ်ထားတာထက် သုံးရက်တောင်
လွန်နေပြီကွ···
I don't accept what you say, you're late for three days.
ဟုတ်···
ဟုတ်ပါတယ်···
ဒါပေမယ့်···
yes . . .yes . . . but . . .
တော်··· တိတ်··· ငါဘာမှ
ထပ်မကြားချင်ဘူး ကတိသစ္စာမတည်တဲ့
မင်းတို့ မျက်နှာလုံးဝမမြင်ချင်ဘူး···
Stop. I don't want to hear you. You break the promise. I don't want to see you face.
ငါ့သမီး
မင်္ဂလာပွဲကို အပျက်မခံနိုင်ဘူး···
သိက္ခာကျမခံဘူးကွ··
I can't accept my daughter's wedding to be broken anyway. I can't accept losing dignity.



မနေ့ကပဲ
မြို့ကသူဌေးငါ့မိတ်ဆွေ
ဦးသုတရဲ့သားနဲ့ပေးစားလိုက်ပြီကွ···
My daughter has been married with the son of my frined lives in this town since yesterday.
ဟာ·…ဒီလိုတော့
မဖြစ်သင့်ဘူးဗျာ···
What?...... It shouldn't be. Why?
မင်းကများ
ပြောရသေးတယ်···
ငါ့ကသမီးရှင်ကွ··· ကတိမတည်တဲ့
မင်းသားနဲ့ မပေးစားနိုင်လို့ တခြားသူနဲ့
ပေးစားလိုက်ပြီ···
Why do you say me like that? She is my daughter. I arranged for her. Because your son broke the promise.
တောက်.. ငါတို့ကို
အရှက်ခွဲတာပဲ ..လာ.. မိန်းမ
ပြန်ကြစို့....
Touk!...... It makes me abash. Let's go back home, wife.


ပြန်··· ပြန်···မင်းတို့
မျက်နှာတွေ လုံးဝမမြင်ချင်ဘူး···
Go......Go. I don't want
to see your faces.
ပြန်မှာ··· ဘယ်တော့မှ
မင်းနဲ့ မပတ်သက်တော့ဘူး ငါ့သားကိုလည်း
တခြားမိန်းမနဲ့ပေးစားမယ်··· တောက်···
Don't worry. I 'll never associate you.
My son will be married with
another lady. Touk.
နှစ်ပေါင်းရှည်ကြာ မိတ်ဆွေဖြစ်လာတဲ့ မိတ်ဆွေနှစ်ဦးစကား
များပြီး, အမျက်ပွားကုန်တယ်···
ဒီဖြစ်ရပ်က သာဝတ္ထိမြို့မှာ ဟိုးလေးတကျော်ဖြစ်သွားခဲ့တော့···
They had disagreement.
That happen widely spreaded through Savathi
Kingdom.
ရဟန်းတော်တွေ ကြားသိပြီး
ပြောဆိုမိကြတယ်···
Also all monks knew
about it.


ဘုရားရှင်ကြွတော်မူလာပြီး ရဟန်းတွေကို တရားဟော ဆုံးမတယ်···
The Lord Buddha came to them and gaye speech.
ချစ်သားတို့ ကောင်းကင်မှာ သွားလာနေကြသော နက္ခတ်များသည် အဘယ်အကျိုးစီးပွားကိုမှ ပြီးမြောက်အောင် ဆောင်ရွက် ပေးနိုင်မည်မဟုတ်···
Bhikkhus, any moving stars in sky can't effect any benefit to any beings.
ကောင်းသော အလုပ်ကို လုပ်သော နေ့မှာပင် ကောင်းသော နက္ခတ်ဖြစ်ပေတယ်···
The day you have goo deed is the good star for you.
နက္ခတ်ကို စောင့်မျှော်သော လူမိုက်အားကောင်းကျိုးချမ်းသာက ကျော်လွန်သွားပေတယ်···
The one who looking towards the star will be left behind good benefit.

# ကံ...ဉာဏ်...ဝီရိယ

## Destiny Intelligence and Diligence




ရောက်တဲ့တိုင်းပြည်တိုင်းမှာ အမိန့်တော်
စာချွန်လွှာ ဖတ်ကြားစေတယ်…
And he ordered to announce his at every Vastu wherever they got.
ကာလိင်္ဂ မင်းကြီး၏ သမီးတော် လေးပါးအား
သိမ်းပိုက်လိုပါက စစ်ထိုး၍ သိမ်းပိုက်
ဖို့ရမည်။
ကာလိင် ပြည့်ရှင် အမိန့်တော်
If anyone wants to marry my daughters, you must have battle with me.
Order by King Karlinga
အဲဒီလို စစ်မက်ကြေညာပေမယ့် ဘယ်တိုင်းပြည်ကမှ ရင်ဆိုင် စစ်မထိုးရဲဘူး …
But no one made the battle with the king.
ကာလိင်္ဂတိုင်းက…
စစ်အင်အားကြီးမားလှတယ်…
King Karkinga has big troop.



ကာလိင်္ဂမင်းကလည်း
ရဲပြီး စစ်ထိုးတော်တယ်…
And he is brave and clever in battle.
ဒါကြောင့်
စစ်မထိုးလိုပါ…လက်ဆောင်ပဏ္ဏာများ
ယူဆောင်ပြီး ပြန်ကြပါ…
So we don't want to make any battle. You take and bring the presents and go back.
တိုင်းပြည်အသီးသီးက ဘုရင်တွေက ပြင်းပယ်ပြီးတော့
လက်ဆောင်တွေပေး ငြိမ်းချမ်းစကားဆိုကြတယ်…
Every king of each Vastu removed the order of King Karlinga and talked about the peace and gave the presents.
ဒီလိုနဲ့ သမီးတော်လေးပါးတင်ဆောင်
ထားတဲ့ မြင်းရထားဟာ "အဿက"
တိုင်းကိုရောက်လာတယ်…
After that they arrived to a Vastu named Arthatka.



အာဿကတိုင်းကို အုပ်ချုပ်နေတာ အာ
ဘုရင်ကြီးကွဲ့···
King Arthatka ruled Arthatka V
ဘုရင်ကလည်း စစ်မတိုးလိုဘူး··· ဒါပေမဲ့ ဘုရင်ကြီးရဲ့ ပညာရှိအမတ် "နန္ဒိသေန" က စဉ်းစားတယ်···
The king did not want to make the battle. But his official named Nandisena thought.
အင်း···ကာလိင်္ဂမင်းဟာ စစ်အင်အားကြီးတယ်ဆိုပြီး အတိုင်းတိုင်းအပြည်ပြည်ကို စိန်ခေါ်နေတာပဲ···
As king Karkinga has big troop, he challenges every Vastu.
ဘယ်နိုင်ငံကမှ မတိုက်ရဲတော့···
No Kingdom and Vastu want to make battle with him.
မာန်တောင်လွှားပြီး ··· တစ်ကျွန်းလုံးကိုခြယ်လှယ်တော့မှာပဲ
So he prouds and wanis to occupy all island.
၃၆



ပညာရှိ အမတ်ကြီးက ဘုရင်ကို အကြံ ပေးတယ်···
The wise official adviced the king.
မင်းကြီး စစ်ထိုးဖို့ လက်ခံပြီး သမီးတော်တွေကို သိမ်းပိုက်လိုက်ပါ···
Majesty, you should accept him and occupy his daughters.
ဖြစ်ပါ့မလား အမတ်ကြီး ··· ကာလိင်္ဂမင်းက စစ်အင်အား ကြီးမားတယ်···
Can we? He has big troop.
သူ့ရဲ့ စစ်အင်အားကို ကြောက်ပြီး ငြင်းပယ်မိရင်အမြဲရန်စ အနိုင်ကျင့်နေမယ် ဘုရား···
If you don't accept his want, he'll provoke again and again.
မစိုးရိမ်ဘဲ လက်ခံပါ ကျွန်တော်မျိုး စီမံပါ့မယ်···
My Majesty, no need to fear him. I can arrange all.


ဘုရင်လည်း ပညာရှိအမတ်ကြီး စကားအတိုင်း လက်ခံလိုက်တယ်...
King Arthatka agreed his wise official's advice.
သမီးတော်တွေကို အာသကဘုရင် သိမ်းပိုက်လိုက်ပြီဆိုတာ သိတော့...
When King Karkinga knew about it,
ကာလိင်္ဂမင်းကြီး ကျေနပ်သဘောကျသွားတယ်...
he was so pleased.
ငါနဲ့ ယှဉ်ပြိုင်မယ့်သူ ပေါ်လာပြီပေါ့.. တွေ့ကြသေးတာပေါ့...
A competitor comes out for me. He'll see what I'm.
ကိုင်း... ခုချက်ချင်း
စစ်ချီဖို့ ပြင်ကြစမ်း..
Be ready for battle


As the troop of karkinga led by king himself, the wise official of Arthatka sent a emissary with a letter to the king.
Both king should make battle at a land between two Kingdoms not to effect of battle to the people.
ကောင်းပြီ သင်တို့ အရှင်ကို ငါစောင့်နေမယ်···
Well, I'll wait for your king.
Karkinga camped at a land between kingdoms. And waited.



အာသသကတိုင်းစဝ်က တောကျောင်းလေးမှာ
ဘုရားလောင်းရသေ့ သီတင်းသုံးနေချိန်ကွဲ့···
The future-Buddha hermit was dwelling at a small monastery in a forest.
ကာလိင်္ဂမင်းကြီးဟာ စစ်မတိုက်ခင် အနိုင်အရှုံးကို
ကြိုသိလိုတော့ ရသေ့ဆီကိုလာမေးတယ်··
King Karlinga got at him to ask gain and lose before battle.
တပည့်တော်တို့
မင်းနှစ်ပါး ဘယ်သူနိုင်မလဲဘုရား···
Who will win between us in battle, my lord.
ရသေ့လည်း သိကြားမင်းကို တဆင်
အဖြေပေးတယ်။
The hermit replied through
of Devas.
သင်နိုင်လိမ့်မယ်
ကာလိင်္ဂမင်းကြီး···
The king, you'll win.


ကာလိင်္ဂမင်းလည်း ဝမ်းသာကျေနပ်ပြီး စစ်ထိုးမယ့် နေ့ရက်ကို စောင့်နေတယ်···
King Karlinga was glad and waiting for the day of battle.
ဒီသတင်းက အဿကဘုရင့် နား ရောက်တော့ အမတ်ကြီးကို ပြောပြတယ်။
When King Arthatka head that news, he said to his wise official.
မစိုးရိမ်ပါနဲ့ဘုရား···
My Majesty, Don't worry about it.
အကြောင်းစုံသိရအောင် ကျွန်တော်မျိုး ရသေ့မြတ်ထံ သွားပါမယ်···
I'll leave to that hermit to see everything.
အမတ်ကြီးဟာ ရသေ့မြတ်ဆီ ရောက်ရှိပြီး ကိုယ်တိုင် မေးလျှောက်တယ်···
And then, the wise official got at the hermit.


အရှင်ရသေ့မြတ်··· အနိုင်အရှုံးကို ဘယ်လို သိပြီးဆုံးဖြတ်ပါသလဲ···
Holy hermit, how can I know gaim and lose in battle?
စစ်နိုင်မယ့် မင်းရဲ့ အစောင့်အရှောက် နတ်က အဖြူရောင်နွားလား ဥသဘ အသွင်နဲ့တိုးမယ်···
Guardian spirit whom of winner king will make the battle in the form of leading bull of the herd.
ရှုံးမယ့် မင်းရဲ့ အစောင့်အရှောက်နတ်က အနက်ရောင်နွားအသွင်နဲ့ တိုးကြမယ် အမတ်ကြီး···
Guardian spirit whom of lose king will make the battle in the form of black bull.
အစောင့်အရှောက် နတ်နွားတွေရဲ့ အနိုင်အရှုံးက အဖြေပါပဲ···
I mean that gain and lose depending on their guardian spirits.



အမတ်ကြီးလည်း အကြောင်းစုံကို သိလိုက်တော့ သူရဲကောင်း ရဲမက်တစ်ထောင်ကို ခေါ်တယ်...
After that, the wise official had a choice one thousand heros.
သူရဲကောင်းရဲမက်တို့... ငါတို့ဘုရင်အတွက် သင်တို့အသက် ပေးဆပ်ဝံ့ကြသလား...
Thous, would you sacrifice for our king?
ပါတယ် အမတ်ကြီး
We are sure. We would.
ကောင်းပြီ... ဒါဆိုလျှင် စစ်ပွဲမှာ ကျွန်ုပ်နဲ့အတူ အနားမှာ အသင့်ရှိနေကြပါ...
Alright. You all must be ready near me at the battle,
ကျွန်ုပ်စေခိုင်းတဲ့ အတိုင်း ရဲရဲဝံ့ဝံ့တိုက်ခိုက်ကြပါ...
You all fight under my order.
၄၄



သတ်မှတ်ထားတဲ့နေ့ရက်ကို ရောက်တော့နှစ်ဖက်စစ်သည်တွေ နယ်စပ်စစ်တလင်းမှာ အသင့်ဖြစ်နေတယ်···
Both troops were ready for battle in battle land on the day of both agreement.
နိုင်မှာကို ကြိုသိပြီး တက်ကြွဝမ်းသာနေတဲ့ ကာလိင်္ဂမင်းရဲ့ စစ်သည်တွေက···
The legion of king Karlinga who had known to win in battle.
ယုံကြည်ချက်လွန်ကဲပြီး မင်းရဲ့ နောက်မှာ ဖရိုဖရဲ ဖြစ်နေတယ်···
was disorderly behind the King.
အမတ်ကြီးရဲ့ နောက်မှာ အာဿကမင်းရဲ့ စစ်သည်တွေက ညီညီညာညာနဲ့ပေါ်ကြွယ်···
The legion of king Arthatka was orderly behind the wise official.


နှစ်ဘက် မင်းနှစ်ပါး စီးတော်မြင်းကိုယ်စီနဲ့ ရင်ဆိုင်ဖို့ အသင့်ဖြစ်နေကြပြီ...
Both kings were ready for battle.
အမတ်ကြီးက အာသာကဘုရင် နားကပ်ပြီး တီးတိုးမေးတယ်...
The wise official asked to his king whisperly.
အရှင်မင်းကြီး... အစောင့်အရှောက်နတ်နွားတွေကို မြင်ရပါသလား...
My Majesty, Do you see guardian spirit bull?
ငါမြင်နေရတယ် အမတ်ကြီး...
I see them, my official.
ဘယ်လို မြင်နေရပါသလဲ မင်းကြီး...
My Majesty, how are they?


ကာလိင်္ဂမင်းရဲ့
အစောင့်အရှောက် နတ်နွားက
အဖြူရောင် ငါရဲ့ အစောင့်နတ်နွားက
အနက်ရောင်ပဲ အမတ်ကြီး...
His guardian spirit bull is in the form of white. But mine is black.
ငါ့နတ်နွား
အသွင်က ညှိုးငယ်နေတယ်
အမတ်ကြီး...
The form of my spirit bull is unhappy.
မစိုးရိမ်ပါနဲ့
အရှင်မင်းကြီး...
ကျွန်ုပ်စေခိုင်းတဲ့ အတိုင်း
ပြုမူပါ...
Don't worry, my Majesty. You should perform as I say.
အမတ်ကြီးက ဘုရင်ကြီးကို
အသေအချာမှာကြားပြောပြ
တယ်...
The wise official told his king.
အရှင်မင်းကြီး...
အရှင်မင်းကြီးရဲ့ လှံတံနဲ့
ကာလိင်္ဂမင်းရဲ့ အစောင့်နတ်နွားဖြူကိုထိုးပါ...
My Majesty, you skewer his guardian spirit bull with your lace.


အရှင်မင်းကြီး
ထိုးတဲ့နေရာကို ကျွန်တော်မျိုးတို့
လက်ရွေးစင် စစ်သည်တွေက ဝိုင်းတိုက်နိုက်
ပါ့မယ်···
And then, my selected soldiers
have to fight at the point
of you skewer.
ကောင်းပြီ
အမတ်ကြီး···
Alright, official.
ဘုရင်ကြီးဟာ အမတ်ကြီးပြောတဲ့ စကားအတိုင်း
စစ်ခရာသံထွက်ပေါ်တာနဲ့···
At the begining of the battle,
သူမြင်နေရတဲ့ ကာလိင်္ဂမင်းရဲ့
အစောင့်နတ်နွားဖြူဆီကို
ဦးတည်ပြီး ကစုန်နှင်တယ်···
King Arthatka marched
towards the bull of King
Karlinga in speed.
'Kyaar!'


ဘုရင်ကြီးဟာ ပြိုင်ဘက်မင်းရဲ့ အစောင့်နတ်နွားဖြူကို လှံတံနဲ့ ထိုးစိုက်တယ်...
King Arthatka skewered at the guardian spirit bull of his opponent.
မင်းကြီးလှံတံနဲ့ ထိုးတဲ့ နေရာကို ရဲမက်တို့ဝိုင်းဝန်းထိုးစိုက်ကြ..
Fight at the point of our king skewers.
အမတ်ကြီးက ဦးဆောင်အမိန့်ပေးပြီး ရဲမက်တစ်ထောင်ဝိုင်းဝန်း တိုက်ခိုက်ကြတယ်...
One thousand heros attacked there by leading wise official.
ကာလိင်္ဂမင်းရဲ့ အစောင့်နတ်နွားဖြူဟာ သေဆုံးသွားတော့တယ်...
Later, the guardian spirit of king karlinga was dead.


ရှဲ့ ··· ငါ့အစောင့် နတ်မင်း···သေပြီ···
Oh!....my guardian spirit is dead.
ကာလိင်္ဂမင်းဟာ သူရဲ့ အစောင့်နတ်နွားသေတာ မြင်တော့ ထိတ်လန့်ပြီး မြင်းဇက်ကြိုးကို ပြန်လှည့်တယ်···
King Karkinga turned his horse back at that time.
ရှင်ဘုရင်ကိုယ်တိုင် ပြန်လှည့်လာတော့ စစ်သည်ရဲမက်တွေလည်း ပြန်ဦးလှည့်ပြေးကြတယ် ···
When the king himself turned back, his troop was too.
Hay.....'Attack them.' 'Drive them away'
Wey...... Hey..... hey'..... Do you see what we are.


တပ်ပျက်နေတဲ့ ကာလိင်္ဂစစ်သည်တွေဟာ
အရှုံးပေးပြီး ဝရုန်းသုန်းကားပြေးကြတယ်···
Disordered troop of king Karlinga ran away from battle.
နောက်ဆုံးတော့ ကာလိင်္ဂမင်းစစ်ရှုံးပြီး
ဆုတ်ခွာပြေးရတော့တယ် ···
At last, the troop of king karlinga defeated in battle and ran away.
အာဿကရဲ့မက်တွေကလည်း ညာသံပေးပြီး
တိုက်ခိုက်မောင်းထုတ်ကြတယ်···
The troop of king Arhtatka attacked them all and drove away.
Wey!~ Wey!.... We get win.
We're Arthatka citizens.


ဘုရင်ကြီးလည်း အမတ်ကြီးရဲ့ ပညာကို ချီးကျူးတော့တယ်···
The king praised the intelligence of his wise official.
အမတ်ကြီး···
အမတ်ကြီး အစွမ်းကကြီးပါတယ်···
High official, your intelligence is too great.
အရှင်မင်းကြီး···
ကျွန်ုပ်ရဲ့ ပညာအစွမ်းမဟုတ်ပါ···
ကံ···ဉာဏ်···ဝီရိယအကျိုးဖြစ်ပါတယ်
ဘုရား···
My Majesty, it isn't due to my intelligence. It is due to destiny, intelligence and diligence.
ရှင်းပြပါဦး
အမတ်ကြီး···
Explain me how it is.
ရသေ့မြတ်က
ကာလိင်္ဂမင်း နိုင်မယ်လို့
သိကြားမင်းထံက သိပြီး မိန့်ကြားခဲ့တာပါ···
Holy hermit told through King of Devas that King Karlinga will win in battle.



သူနိုင်မှာ သိပေမယ့်··· အစောင့်နတ်တွေက နွားအသွင်ယှဉ်ပြိုင်မှာ သိခဲ့ရပါတယ်···
Actually, guardian spirit bulls of both kings will make a battle.
ကျွန်တော်မျိုးက ဉာဏ်သုံးပြီး အစောင့်နတ်နွားကို တိုက်ခိုက်စေခဲ့တာပါ···
I used my intelligence in that battle.
အရှင်မင်းကြီး တိုက်ခိုက်တော့ စစ်သည်ရဲမက်တွေက ပိုင်းဝန်းတိုက်ခိုက်ခဲ့ကြတယ်···
The heros attacked at the point you've attacked.
ကံကိုချည်းပဲ အားကိုးလို့ မအောင်မြင်နိုင်ပါဘူး··· ကာလိင်္ဂမင်းဟာ ကံကိုပဲ အားကိုးလို့ အနိုင်ကနေရှုံးနိမ့်ခဲ့တာပါ···
That victory is not due to destiny only. But King Karlinga relys.on destiny. So he defeats in battle.


ဒီစစ်ပွဲမှာ သူနိုင်မှာကို သိတော့ သူဟာ ဉာဏ်နဲ့ဝီရိယအားကို မြှောက်ထုတ်တော့ ပါဘူး...
As he knows he'll win in that battle, he has less encouragement in intelligence and diligence.
ကျွန်တော်မျိုးတို့ ဘက်က ကံမကောင်းပေမယ့် ဉာဏ်နဲ့ ဝီရိယ အားကိုပြည့်ဝစွာ စိုက်ခဲ့ကြပါတယ်...
Though I know we'll defeat in it, I used my intelligence and diligence strongly.
ဒါကြောင့် ကာလိင်္ဂမင်းကို အနိုင်ယူ နိုင်ခဲ့တာပါပဲ...
So we get win in battle.
အင်း... ပညာရှိ အမတ်ကြီးပြောတာ မှန်ကန်ပါပေတယ်...
You say right, wise official.


ဇာတ်တော်လေးထဲမှာ အစောင့်အရှောက်
နတ်တောင် လူသတ်လို့သေခဲ့ရတယ်နော်···
You see in this jartaka the guardian
spirit was dead by mankind.
လောကကြီးမှာ လူသားရဲ့ ကံ၊ ဉာဏ်၊
ဝီရိယ အကျိုးက အကြီးမားဆုံးပဲ···
Destiny, intelligence and
diligence of mankind is the
most powerful in the world.
အမတ်ကြီးဟာ ကာလိင်္ဂမင်းရဲ့
ဘုန်းကံကို ဉာဏ်သုံးပြီး ···
ဝီရိယအားစိုက်ကာ အနိုင်ယူခဲ့တယ်··
The wise official got the win
on the power of king Karlinga
with his intelligence.
အနိုင်အတွက် ကံဉာဏ်ဝီရိယအားဟာ အရေးကြီးဆုံးဆိုတာ
မမေ့ကြနဲ့နော်···
Destiny, intelligence and diligence are the most
important for win.


လူတွေဟာ ကံကိုပဲ အားကိုးပြီးနေရင် အရှုံးကိုရင်ဆိုင်တွေ့ရတတ်တယ်...
No one should rely on destiny. That can make you fail.
ကံကိုချည်း အားမကိုးပဲ ဉာဏ် နဲ့တွေးတောရှာဖွေဆင်ခြင်တတ်ရမယ်...
Everyone should have intelligence and consideration.
ဝီရိယရှိရှိနဲ့ ရဲရဲဝံ့ဝံ့ လုပ်ဆောင်ရမယ်...
Everyone should perform bravely.
ဒါဆိုရင် အောင်မြင်မှုဆိုတာ ပြေးမလွတ်တော့ဘဲ ကိုယ်ပိုင်ဆိုင်ရပြီပေါ့...
So you'll success in your life.


ဗုဒ္ဓဘုရားရှင်က အမှန်တရားကို ရှာဖွေတတ်ဖို့ စကားကြီး ဆယ်ခွန်း မိန့်ကြားခဲ့တယ်···
05270127
The Lord Buddha gave Tenfold speech to consides the Truth.
500
အမှန်တရားဆိုတာ ကိုယ်တိုင်ဉာဏ် ၊ ပညာသုံးပြီး ရှာဖွေရမယ်တဲ့···
He said that you yourself find out the Truth with intelligence.
ကလေးတို့တွေလည်း အမှန်တရားကို ရှာဖွေပြီး ကောင်းကျိုး အောင်မြင်မှုတွေရှာဖွေနိုင်ကြပါစေကွယ်။
Children, you're wished to find out the Truth youself with intelligence to win greatful success in your life.
ပြီး
The End